ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

လုပ်ငန်းစိစစ်ရေးဌာန

ဝင်စာတင်ပြလွှာ

အကြောင်းအရာ ။ ။ ဧရာဝတီ မြည့် စချိုသာ ကုမ္ပဏီ လီမိတက် နှင့်

| နေ့စွဲ | ဆောင်ရွက်ချက် | မှတ်ချက် |
|---|---|---|
| ၄.၁.၂၀၁၁ | ဝင်စာ ရရှိသည်။ | |
| ၇.၁.၂၀၁၁ | ဟိုတယ် ၊ ခရီး သို့ သဘောထား တောင်း သည်။ | |
| ။ | ။ မှ သဘောထား ရရှိသည်။ | |
| ၁၄.၁.၂၀၁၁ | MIC <၂/၂၀၁၁> <၁၄.၁.၂၀၁၁> သို့ တင်ပြသည်။ | |
| ၁၉.၁.၂၀၁၁ | TC <၂ / ၂၀၁၁> သို့ တင်ပြသည်။ | |
| .၁.၂၀၁၁ | Cabinet <၄ / ၂၀၁၁> အား မှတ်တင် တင်ပြ ပို့ သည်။ | |
| | ပရမ - ၇ဇ / ၂၀၁၁ <၁၀.၂.၂၀၁၁> ရရှိသည်။ | |



ပုံစံ (မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၇၈၆ / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၀ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးတေဇ

(ခ) အဘအမည် ဦးမြင့်ဆွေ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ကမရ (နိုင်) ၀၂၄၀၉၀

(ဃ) နေရပ်လိပ်စာ အမှတ် – ၈၆၊ အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ဧရာဝတီဒြေ့စခန်းသာကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) မြေတိုင်းရပ်ကွက်အမှတ်(၁)၊ မြေကွက်အမှတ်(၁)၏ တစ်စိတ်တစ်ဒေသနှင့် မြေကွက်အမှတ် (၂-A၊ ၂-B၊ ၂-C )၊ကန်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၄၃၃၈၇.၂၉ (သန်း) (အမေရိကန်ဒေါ်လာ (၁၃.၀၀) သန်း အပါအဝင် စုစုပေါင်း ကျပ် လေးသောင်း၊ သုံးထောင်၊ သုံးရာရှစ်ဆယ့်ခုနှစ်သန်း၊ နှစ်သိန်း၊ ကိုးသောင်း)

(signature)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ ၁၆ / ၂၀၁၁(မနသ)
## ရန်ကုန်မြို့၊ ၁၃၇၂ ခုနှစ်၊ တပို့တွဲလဆန်း ၇ ရက်
## (၂၀၁၁ ခုနှစ် ၊ဖေဖော်ဝါရီလ ၁၀ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ဧရာဝတီ ညော်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) မှ မြေတိုင်းရပ်ကွက် အမှတ် - ၁၊ မြေကွက် အမှတ် - ၁ ၏ တစ်စိတ်တစ်ဒေသ နှင့် မြေကွက်အမှတ် ၂- အေ၊ ၂- ဘီ၊ ၂- စီ ၊ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကန်ရိပ်သာလမ်းရှိ မြေ (၅.၅၀၇)ဧက (၂၃၉၈၈၄.၉၂ စတုရန်းပေ)တွင် Kandawdgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြု တင်ပြချက်အား(၁၃-၁-၂၀၁၁)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂/၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး(၁၉-၁-၂၀၁၁)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏(၂/၂၀၁၁) အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ရာ လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန်၊ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ အခွန်အကောက် ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကို လည်းကောင်း ခံစားခွင့် မပြုရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ(၂၇-၁-၂၀၁၁)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ (၄/၂၀၁၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ လုပ်ငန်း ဆောင်ရွက်ရန် သဘောတူ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဧရာဝတီ ညော်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) အား ဟိုတယ်လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၇၈၆/ ၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ ဧရာဝတီ ညော်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၃။ ဧရာဝတီ ညော်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၄။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန၊ Baiyoke Kandawgyi Hotel Co., Ltd နှင့် Ayeyarwaddy Resorts & Lodges Co., Ltd တို့ ဟိုတယ်လွှဲပြောင်းခြင်းဆိုင်ရာ သုံးဦးဖလှယ်သဘောတူညီချက် လက်မှတ်ရေးထိုးပြီးပါက ယင်းသဘောတူစာချုပ် နှင့် Kandawgyi Palace Hotel အား ကုမ္ပဏီမှ ပိုင်ဆိုင်သည့် အထောက်အထားများကို မိတ္တူ(၅)စောင်စီဖြင့် ဤကော်မရှင်သို့ အပျက်မကွက် ပေးပို့တင်ပြရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၆။ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင် သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၇။ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊မြေထု ညစ်ညမ်းမှု ၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၈။ ဧရာဝတီဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် ( ဧပြီ / အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း ၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၉။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏

နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့်တယ်လီဖုန်းနံပါတ်)တို့ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၀။ ဧရာဝတီဧည့်စခန်းသာကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများ မှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာဆောင်ရွက်ခြင်း မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၁၂၉/၂၀၁၁( ၁၂ )

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၀ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ ရန်ကုန်တိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး၊ ရန်ကုန်တိုင်းဒေသကြီး။

၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင်များ။

၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း ဝန်ကြီးဌာန။

၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၁။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၂။ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ။

၁၃။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၄။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊မြန်မာ့ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဟိုတယ်နှင့် ခရီးသွားလုပ်ငန်း။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံ လုပ်ငန်း။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၅။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ဧရာဝတီဧည့်စခန်းသာကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဇန်နဝါရီ လ၂၆ ရက်၊

အကြောင်းအရာ။ ။ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် ( Ayeyarwaddy Resorts & Lodges Co., Ltd)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ (၁၉- ၁ -၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၁) အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd) မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုရန်၊

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ကို လည်းကောင်း၊ ပုဒ်မ (၁၃)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်မပြုရန်၊

၂။ သို့ဖြစ်ပါ၍ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြမည့် အမှာစာ(စာချော)တွင် လက်မှတ် ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(သူရိန်ဇော်၊အတွင်းရေးမှူး )

ဥက္ကဋ္ဌ

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက- ၆ (ခ) / မ - ၁၁၂၉ / ၂၀၁၁ ( ၁၁၂၈ )၊

**ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။**

**အကျဉ်းချုပ်။** ။ မြန်မာ ကုမ္ပဏီဖြစ်သော ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ မြေတိုင်း ရပ်ကွက်အမှတ် - ၁၊ မြေကွက်အမှတ် - ၁ ၏ တစ်စိတ် တစ်ဒေသနှင့် မြေကွက်အမှတ် ၂ - အေ၊ ၂ - ဘီ၊ ၂ - စီ ရှိ ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကန်ရိပ်သာလမ်းရှိ မြေ (၅.၅၀၇)ဧက (၂၃၉၈၈၄.၉၂ စတုရန်းပေ)တွင် Kandawdgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတေဇ (အဘ-ဦးမြင့်ဆွေ) မှ အဆိုပြု တင်ပြလာပါသည်။

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် နှင့်စပ်လျဉ်း၍ (၁၉- ၁ -၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၁) အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd) မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုရန်၊

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ပုဒ်မ (၁၃)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်မပြုရန်၊

အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဟိုတယ် နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနမှ တင်ပြလာသဖြင့် ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဟိုတယ် နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာနမှ (၂၄-၁-၂၀၁၁) ရက်စွဲပါ စာဖြင့် လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ၎င်းဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်းနှင့် သဘောတူပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ Ayeyarwaddy Resorts & Lodges Co., Ltd မှ Kandawgyi Palace Hotel လုပ်ငန်းဆောင်ရွက်ခွင့် တောင်းခံထားပြီး မြန်မာ့ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန၊ Baiyoke Kandawgyi Hotel Co., Ltd နှင့် Ayeyarwaddy Resorts & Lodges Co., Ltd တို့ ဟိုတယ်လွှဲပြောင်းခြင်းဆိုင်ရာ သုံးဦးဖလှယ် သဘောတူညီချက် လက်မှတ်ရေးထိုးရန် ဆောင်ရွက်လျက်ရှိကြောင်း၊ အဆိုပါ သဘောတူညီချက် လက်မှတ်ရေးထိုးပြီး

ပြည်ထောင်စုမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)၊ နေပြည်တော်

ဖက်(စ): ၉၅-၆၇-၄၀၆၃၃၃                    တယ်လီဖုန်း-၀၆၇-၄၀၆၀၇၅၊ ၄၀၆၁၆၁။

စာအမှတ်၊ရကက-၆(က)/မ-၁၁၂၉/၂၀၁၁(၁၀၄၈)၊

ရက်စွဲ ၊ ၂၀၁၁ ခုနှစ် ၊ ဇန်နဝါရီလ ၂၅ ရက်။

သို့

ဝန်ကြီးရုံး၊

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန။

အကြောင်းအရာ။ ။ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

ရည်ညွှန်းချက် ။ ။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ (၁၄-၁-၂၀၁၁) ရက်စွဲပါ စာအမှတ်၊ ၁၈ ဂ ၂၀၁၁ (၂)/နပတ (၀၂၄၄)၊

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာနမှ ရည်ညွှန်းချက်ပါ စာဖြင့် တင်ပြခြင်းကို (၁၉-၁-၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ ၏ (၂/ ၂၀၁၁) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန်၊

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း ၊ ပုဒ်မ (၁၃)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့် မပြုရန်၊

၃။ အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန် နှင့် အစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် အဆိုပြုချက် (၁၅)စုံ ကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့်အတူ ဤကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(သူရိန်ဇော်၊ အတွင်းရေးမှူး)

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊
ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန။

(၂) ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)။

(၃) ရုံးလက်ခံ/ မျှောစာတွဲ။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ်'စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဇန်နဝါရီ လ ရက်၊

အကြောင်းအရာ။ ။ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ ကော်မရှင်၏ (၁/၂၀၁၁) (၁၃-၁-၂၀၁၁)အစည်းအဝေးမှ "ကုန်သွယ်မှု မူဝါဒကောင်စီ သို့ ဆက်လက် တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကုန်သွယ်မှု မူဝါဒကောင်စီ သို့ တင်ပြမည့် အမှာစာ(စာချော)တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(သူရိန်ဇော်၊အတွင်းရေးမှူး)
16/1/2011

ဥက္ကဋ္ဌ

2/D

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက- ၆ (ခ) / မ - ၁၁၂၉ / ၂၀၁၁ ( ၆၅၄ )၊

**ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။**

**အကျဉ်းချုပ်။** ။ မြန်မာ ကုမ္ပဏီဖြစ်သော ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ မြေတိုင်း ရပ်ကွက်အမှတ် - ၁၊ မြေကွက် အမှတ် - ၁ ၏ တစ်စိတ် တစ်ဒေသနှင့် မြေကွက်အမှတ် ၂ - အေ၊ ၂ - ဘီ၊ ၂ - စီ ရှိ ရန်ကုန်တိုင်း ဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကန်ရိပ်သာလမ်းရှိ မြေ (၅.၅၀၇)ဧက (၂၃၉၈၈၄.၉၂ စတုရန်းပေ)တွင် Kandawdgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတေဇ (အဘ- ဦးမြင့်ဆွေ)မှ အဆိုပြု တင်ပြလာပါသည်။

အဆိုပြု လုပ်ငန်း နှင့်စပ်လျဉ်း၍ ဟိုတယ် နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာနမှ (၇-၁-၂၀၁၁)ရက်စွဲပါ စာဖြင့် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဤဝန်ကြီးဌာန အနေဖြင့် သဘောတူ ကြောင်း သဘောထား ပြန်ကြားထားပါသည်။

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၁၃-၁-၂၀၁၁)နေ့တွင် ကျင်းပ ပြုလုပ်သည့် ကော်မရှင်၏ (၂/၂၀၁၁) အစည်းအဝေးမှ အချက်အလက်များ ပြည့်စုံပါက ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ Ayeyarwaddy Resorts & Lodges Co., Ltd မှ Kandawgyi Palace Hotel လုပ်ငန်းဆောင်ရွက်ခွင့် တောင်းခံထားပြီး မြန်မာ့ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန၊ Baiyoke Kandawgyi Hotel Co., Ltd နှင့် Ayeyarwaddy Resorts & Lodges Co., Ltd တို့ ဟိုတယ်လွှဲပြောင်းခြင်းဆိုင်ရာ သုံးဦးဖလှယ် သဘောတူညီချက် လက်မှတ်ရေးထိုးရန် ဆောင်ရွက်လျှက်ရှိကြောင်း၊ အဆိုပါ သဘောတူညီချက် လက်မှတ်ရေးထိုးပြီး ပါက Kandawgyi Palace Hotel ၏ ဟိုတယ်လုပ်ငန်း လိုင်စင်အား အသစ်လျှောက်ထား မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား ရယူမည့် အပြင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ (၁၃.၀၀) သန်း အပါအဝင် စုစုပေါင်း ကျပ်(၄၃၃၈၇.၂၉)သန်း ဖြစ်ပါသည်။ အဆောက်အဦ တန်ဖိုးအား US $ (၁၃.၀၀)သန်း ဖြင့် ဖော်ပြထားပါသည်။ Kandawgyi Palace Hotel Project အား ပုဂ္ဂလိကပိုင်လုပ်ငန်းအဖြစ် ဆောင်ရွက်မည့် အထောက် အထားများ တင်ပြ ထားခြင်းမရှိပါ။

အဆိုပြုလုပ်ငန်းမှ လက်ရှိ ဝန်ဆောင်မှုပေးနိုင်မည့် အခန်း စုစုပေါင်း(၂၀၈)ခန်း ရှိပြီး နောင်နှစ်များအတွက် အခန်းများ ထပ်မံတိုးချဲ့ ဆောင်ရွက်လျက်ရှိပါသည်။ အခန်း ငှားရမ်းခနှုန်းများမှာ US$ ဖြင့် (၃၅)ရာခိုင်နှုန်းနှင့် ကျပ်ငွေဖြင့် (၅၀)ရာခိုင်နှုန်းဖြင့် တွက်ချက်ထားပါသည်။ အခန်းအမျိုးအစား အလိုက် ငှားရမ်းခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အခန်းအမျိုးအစား | အခန်းအရေအတွက် | တစ်ခန်း ငှားရမ်းခနှုန်း | |
|---|---|---|---|---|
| | | | (US$) | ကျပ် |
| ၁။ | Superior | ၅၃ | ၉၀ | ၈၀၀၀၀ |
| ၂။ | Deluxe | ၁၁၀ | ၁၁၀ | ၈၅၀၀၀ |
| ၃။ | Lake Front | ၂၂ | ၁၄၀ | ၉၀၀၀၀ |
| ၄။ | Diplomat Suites | ၄ | ၂၀၀ | - |
| ၅။ | Corporate Suites | ၈ | ၂၁၀ | - |
| ၆။ | Governors Suites | ၅ | ၂၁၀ | - |
| ၇။ | Presidential Suites | ၂ | ၆၀၀ | - |
| ၈။ | Imperial Suites | ၂ | ၇၀၀ | - |
| ၉။ | Royal Bungalows | ၂ | ၈၀၀ | - |

လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | ပြည်တွင်းသုံးငွေ (ကျပ်/သန်း) | နိုင်ငံခြားသုံးငွေ (US$/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၇၅၆၅.၆၃ | ၁၂.၁၃ | ၁၇၆၃၈.၄၀ |
| (ခ) | အသုံးစရိတ် | ၈၆၅၉.၂၆ | ၃.၂၁ | ၈၆၇၈.၅ |
| (ဂ) | အသားတင်အမြတ် | ၈၉၀၆.၃၇ | ၈.၉၂ | ၈၉၅၉.၉၀ |

လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | ပြည်တွင်းသုံးငွေ (ကျပ်/ သန်း) | နိုင်ငံခြားသုံးငွေ (US$/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|---|
| (က) | ကုန်သွယ်လုပ်ငန်းခွန် | ၁၇၅၆.၅၆ | ၁.၂၁ | ၁၇၆၃.၈၄ |
| (ခ) | ဝင်ငွေခွန် | ၃၈၁၇.၀၂ | ၁.၅၇ | ၃၈၂၆.၄၆ |

လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ် နှင့် (၁၀)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၁၁.၈၅) ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၁၇၆) ဦး အလုပ်အကိုင် ရရှိပါမည်။ ပြည်ပမှ ပညာရှင် (၃)ဦး အချိန်ပိုင်း ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း မှ ခန့်ထားမည့် Manager (၆)ဦးအား US$ ဖြင့် လစာပေးချေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

အလုပ်သမားနှင့်ဝန်ထမ်းများ သက်သာချောင်ချိရေး အတွက် ဝန်ထမ်း ကြိုပို့ယာဉ် များ စီစဉ်ထားရှိခြင်း၊ ဝန်ထမ်းများ သက်သာချောင်ချိရေး စားသောက် ဆိုင်ဖွင့်လှစ်ပေးခြင်း၊ နိုင်ငံတကာ အဆင့်မီ ဟိုတယ်လုပ်ငန်းဆိုင်ရာ သင်တန်းများအား ဟိုတယ်၏အစီအစဉ်ဖြင့် တက်ရောက်နိုင်ရန် စီစဉ်ပေးခြင်း၊ အလုပ်ဆင်းရက် မှန်ကန်မှုအတွက် ဆုကြေးငွေ ပေးအပ်ခြင်းနှင့် အချိန်ပို လုပ်အားခပေးခြင်းတို့ကို ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ မီးဘေး ကြိုတင် ကာကွယ်ရေးနှင့် ပတ်ဝန်း ကျင် ထိန်းသိမ်းကာကွယ်ရေး စီမံချက်များ၊ ဟိုတယ်အဆောက်အဦ ဓါတ်ပုံများ၊ Car Parking ထားရှိ နိုင်မှုများကို တင်ပြထားပါသည်။

ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မီးဘေးအန္တရာယ်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ မြေယာ နှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။ ကုန်ပစ္စည်း အရောင်း မြှင့်တင်ရေးအတွက် လည်းကောင်း၊ အခကြေးငွေယူ၍ လည်းကောင်း၊ စားသောက်ဆိုင်နှင့် ဟိုတယ်ကြီးများ၌ State Show, Fashion Show နှင့် Model Show များ ပြုလုပ်ရာတွင် အမျိုးသားယဉ်ကျေးမှုနှင့် ပတ်သက်၍ ထိန်းသိမ်းသွားနိုင်ရန် သက်ဆိုင်ရာ အဖွဲ့အစည်း အသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် အနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် လိုအပ်မည့် မြန်မာကျပ်ငွေနှင့် နိုင်ငံခြားသုံးငွေများအား Htoo Trading Co., Ltd မှ ပိုင်ဆိုင်သော နိုင်ငံခြားငွေ စာရင်းနှင့် ကျပ်ငွေစာရင်းများမှ အကျိုးတူ အသုံးပြုခွင့်ပြုကြောင်း၊ ဒါရိုက်တာအဖွဲ့ အစည်းအဝေး မှတ်တမ်း တင်ပြထားပါသည်။ ကျပ်ငွေ အဖြစ် ထူးထရေးဒင်းကုမ္ပဏီလီမိတက် အမည်ဖြင့် Asia Green Development Bank တွင် (၂၇-၁၂-၂၀၁၀)နေ့ ငွေလက်ကျန် ကျပ် (၁၁၄၃.၀၂)သန်းနှင့် နိုင်ငံခြားငွေအဖြစ် MFTB ဘဏ်တွင် (၁၇-၁-၂၀၁၀)နေ့ ငွေလက်ကျန် အမေရိကန်ဒေါ်လာ (၃၂၀၂၉၁) တင်ပြထားပါသည်။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

**ဆုံးဖြတ်ရန်အချက်** ။ ။ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုရန် သဘောတူ - မတူ။

ကော်မရှင်၏ (၂/၂၀၁၁) အစည်းအဝေး

အကြောင်းအရာ။ ။ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ။

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ မြေတိုင်း ရပ်ကွက်အမှတ်- ၁/မြေကွက်အမှတ်- ၁ ၏ တစ်စိတ်တစ်ဒေသနှင့် မြေကွက်အမှတ်- ၂- အေ၊ ၂- ဘီ၊ ၂- စီ ရှိ ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကန်ရိပ်သာလမ်းရှိ မြေ (၆.၄၄၆)ဧက (၂၈၀၇၈၇.၇၆ စတုရန်းပေ)တွင် Kandawdgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတေဇ (အဘ- ဦးမြင့်ဆွေ)မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြု လုပ်ငန်း နှင့် စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာနမှ (၇-၁-၂၀၁၁)ရက်စွဲပါ စာဖြင့် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဤဝန်ကြီးဌာန အနေဖြင့် သဘောတူကြောင်း သဘောထား ပြန်ကြားထားပါသည်။

၃။ Ayeyarwaddy Resorts & Lodges Co., Ltd သည် (၇-၉-၂၀၁၀)ရက်နေ့တွင် ကုမ္ပဏီ သက်တမ်းကုန်ဆုံးခဲ့ပြီး (၁၂-၁-၂၀၁၀)နေ့တွင် ကုမ္ပဏီမှတ်ပုံတင် သက်တမ်းတိုးကြေး ပေးသွင်း၍ ကုမ္ပဏီမှတ်ပုံတင် (ယာယီ)သက်တမ်းတိုးကဒ်ပြား ထုတ်ယူရန် ဆောင်ရွက်ထားပါကြောင်း ကုမ္ပဏီမှ ရှင်းလင်းတင်ပြထားပါသည်။

၄။ ယခု Kandawgyi Palace Hotel သည် မြန်မာ့ဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ညွှန်ကြားမှုဦးစီးဌာနနှင့် Baiyoke Kandawgyi Hotel Co., Ltd တို့ BOT စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက်မည့် ဟိုတယ်ဖြစ်ပါသည်။ Ayeyarwaddy Resorts & Lodges Co., Ltd မှ Kandawgyi Palace Hotel လုပ်ငန်းဆောင်ရွက်ခွင့် တောင်းခံထားပြီး မြန်မာ့ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှုဦးစီးဌာန၊ Baiyoke Kandawgyi Hotel Co., Ltd နှင့် Ayeyarwaddy Resorts & Lodges Co., Ltd တို့ ဟိုတယ်လွှဲပြောင်းခြင်းဆိုင်ရာ သုံးဦးဖလှယ် သဘောတူညီချက် လက်မှတ်ရေးထိုးရန် ဆောင်ရွက် လျှက်ရှိကြောင်း၊ အဆိုပါ သဘောတူညီချက် လက်မှတ်ရေးထိုးပြီးပါက Kandawgyi Palace Hotel ၏ ဟိုတယ်လုပ်ငန်း လိုင်စင်အား အသစ်လျှောက်ထားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

၅။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိပါက ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုမှာ စုစုပေါင်း ကျပ်(၂၇၀၈.၀၀)သန်း ဖြစ်ပါသည်။ အဆောက်အဦ တန်ဖိုးအား US $ (၁၃.၀၀)သန်း ဖြင့် ဖော်ပြထားပါသည်။ Kandawgyi Palace Hotel Project အား ပုဂ္ဂလိကပိုင်လုပ်ငန်းအဖြစ် ဆောင်ရွက်မည့် အထောက် အထားများ တင်ပြထားခြင်းမရှိပါ။

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၂၇၀၈.၀၀ သန်း (US$ ၁၃.၀၀ သန်း အပါအဝင်)

(က) ငွေပမာဏ ၁၀၀.၀၀

(ခ) အဆောက်အဦ ၇၈.၀၀ (US$ ၁၃.၀၀ အပါအဝင်)

(ဂ) ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ ၃၀.၀၀

(ဃ) မြေ ၂၅၀၀.၀၀

၇။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှု ပေးနိုင်မည့် အခန်း စုစုပေါင်း (၂၀၈)ခန်းရှိပြီး အခန်းငှားရမ်းခ နှုန်းများမှာ US$ ဖြင့် (၄၅)ရာခိုင်နှုန်းနှင့် ကျပ်ငွေဖြင့် (၃၀)ရာခိုင်နှုန်းဖြင့် တွက်ချက်ထားပါသည်။ ပုံမှန်နှစ်တွင် အခန်းအမျိုးအစား အလိုက် ငှားရမ်းခ နှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အခန်းအမျိုးအစား | အခန်းအရေအတွက် | တစ်ခန်း ငှားရမ်းခနှုန်း | |
|---|---|---|---|---|
| | | | (US$) | ကျပ် |
| ၁။ | Superior | ၅၃ | ၈၀ | ၅၀၀၀၀ |
| ၂။ | Deluxe | ၁၁၀ | ၁၁၀ | ၆၀၀၀၀ |
| ၃။ | Lake Front | ၂၂ | ၁၄၀ | ၇၀၀၀၀ |
| ၄။ | Diplomat Suites | ၄ | ၂၀၀ | - |
| ၅။ | Corporate Suites | ၈ | ၂၁၀ | - |
| ၆။ | Governors Suites | ၅ | ၂၁၀ | - |
| ၇။ | Presidential Suites | ၂ | ၆၀၀ | - |
| ၈။ | Imperial Suites | ၂ | ၇၀၀ | - |
| ၉။ | Royal Bungalows | ၂ | ၈၀၀ | - |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | | (ကျပ်) | (US$) | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၂၆၇၆.၁၈ | ၅.၅၀ | ၂၇၀၉.၂၁ |
| (ခ) | အသုံးစရိတ် | ၂၁၈၈.၂၄ | ၁.၆၅ | ၂၁၉၈.၁၅ |
| (ဂ) | အသားတင်အမြတ် | ၄၈၇.၉၄ | ၃.၈၅ | ၅၁၁.၀၆ |

၉။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | | (ကျပ်) | (US$) | စုစုပေါင်း |
|---|---|---|---|---|
| (က) | ကုန်သွယ်လုပ်ငန်းခွန် | ၂၆၇.၆၂ | ၀.၅၅ | ၂၇၀.၉၂ |
| (ခ) | ဝင်ငွေခွန် | ၂၀၉.၁၂ | ၀.၆၈ | ၂၁၃.၂၀ |

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ်နှင့် (၇)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၂.၅၂) ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၁၇၆) ဦး အလုပ်အကိုင် ရရှိပါမည်။ ပြည်ပမှ ပညာရှင် (၃)ဦး အချိန်ပိုင်း ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း မှ ခန့်ထားမည့် Manager (၆)ဦးအား US$ ဖြင့် လစာပေးချေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မီးဘေး ကြိုတင် ကာကွယ်ရေးနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေး စီမံချက်များ၊ ဟိုတယ်အဆောက် အဦ ဓါတ်ပုံများ၊ Parking ထားရှိနိုင်မှုများကို တင်ပြထားပါသည်။

၁၁။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ (လုပ်ငန်းအသစ်ဖြစ်ကြောင်း၊) မီးဘေးအန္တရာယ်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ (ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း၊)မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံ ကတိပြုထားပါသည်။ ကုန်ပစ္စည်း အရောင်း မြှင့်တင်ရေးအတွက် လည်းကောင်း၊ အခကြေးငွေယူ၍ လည်းကောင်း၊ စားသောက်ဆိုင်နှင့် ဟိုတယ်ကြီးများ၌ State Show, Fashion Show နှင့် Model Show များ ပြုလုပ်ရာတွင် အမျိုးသားယဉ်ကျေးမှုနှင့် ပတ်သက်၍ ထိန်းသိမ်းသွားနိုင်ရန် သက်ဆိုင်ရာ

အဖွဲ့အစည်း အသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် အနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် လိုအပ်မည့် မြန်မာကျပ်ငွေနှင့် နိုင်ငံခြားသုံးငွေများအား Htoo Trading Co., Ltd မှ ပိုင်ဆိုင်သော နိုင်ငံခြားငွေ စာရင်းနှင့် ကျပ်ငွေစာရင်းများမှ အကျိုးတူ အသုံးပြုခွင့်ပြုကြောင်း၊ ဒါရိုက်တာအဖွဲ့ အစည်းအဝေး မှတ်တမ်း တင်ပြထားပါသည်။ ကျပ်ငွေအဖြစ် ထူးထရေးဒင်းကုမ္ပဏီလီမိတက် အမည်ဖြင့် Asia Green Development Bank တွင် (၂၇-၁၂-၂၀၁၀)နေ့ ငွေလက်ကျန် ကျပ် (၁၁၄၃.၀၂)သန်းနှင့် နိုင်ငံခြားငွေအဖြစ် MFTB ဘဏ်တွင် (၁၇-၁-၂၀၁၀)နေ့ ငွေလက်ကျန် အမေရိကန်ဒေါ်လာ (၃၂၀၂၉၁)သိန်း တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

<u>စိစစ်တင်ပြချက်</u>

၁၄။ သို့ဖြစ်ပါ၍ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

လျှို့ဝှက်

- ၅ -

## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | ဧရာဝတီစခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) | ၁။ ဦးတေဇ ( မန်နေဂျင်း ဒါရိုက်တာ) | အမှတ် - ၈၆၊ အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ရန်ကုန်မြို့။ |
| | | ၂။ ဦးပြည့်ဖြိုးတေဇ (ဒါရိုက်တာ) | အမှတ် ၈၂(အေ)၊ သံလွင်လမ်း၊ ရွှေတောင်ကြား (၂)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |
| | | ၃။ ဒေါ်ခင်ဥမ္မာဝင်း (ဒါရိုက်တာ) | အမှတ် (၁၃၉)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၄။ ဒေါ်ဂျွန်လေးမောင် (ဒါရိုက်တာ) | အမှတ် (၁၁၀)၊ ကျားကွက်သစ်၊ ကျောက်မြောင်းလမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

**စာအမှတ်၊** ၁၈ ၀ ၂၀၁၁ (၂) /နပတ( ၀၁၂၂ )

**ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊** ဇန်နဝါရီ **လ** ၇ **ရက်။**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း။**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၁-၂၀၁၁ ရက်စွဲပါစာအမှတ်၊ ရက-၆ (က)/မ-၁၁၂၉ / ၂၀၁၁ (၀၁၉၄)

ဧရာဝတီဧည့်စခန်းသာကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd က ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ကန်ရိပ်သာလမ်းရှိ ကန်တော်ကြီးပဲလေ့စ် ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် တောင်းခံလာခြင်းအပေါ် ဤဝန်ကြီးဌာန အနေဖြင့် သဘောတူကြောင်း ပြန်ကြားအပ်ပါသည်။

7/1/2011

ဦးစိုးနိုင်
ဝန်ကြီး

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

ဖက်(စ)-၉၅-၆၇-၄၀၆၃၃၃ တယ်လီဖုန်း - ၀၆၇-၄၀၆၀၇၅၊ ၄၀၆၁၆၁

စာအမှတ်၊ရကေ-၆(က)/မ- ၁၁၂၉/၂၀၁၁(၀၁၉၄ )၊
ရက်စွဲ ၊၂၀၁၁ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်။

သို့

ဦးစိုးနိုင်၊

ဝန်ကြီး၊ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန။

အကြောင်းအရာ။ ။ သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ။

ရည် ညွှန်း ချက် ။ ။ ဧရာဝတီဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် ( Ayeyarwaddy Resorts & Lodges Co., Ltd)၏ (၃-၁-၂၀၁၁) ရက်စွဲပါစာ။

၁။ ဧရာဝတီဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် ( Ayeyarwaddy Resorts & Lodges Co., Ltd)တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ကန်ရိပ်သာလမ်းရှိ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း (၃) ၊ အပိုဒ် (၁၁) ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသဖြင့် အဆိုပြုချက်ပါ လုပ်ငန်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ

Ayeyarwaddy Hotel.doc

မိတ္တူ -

(၁) ဝန်ကြီးရုံး၊
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန။

(၂) ဧရာဝတီဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် ( Ayeyarwaddy Resorts & Lodges Co., Ltd) ထံ သိရှိနိုင်ပါရန် နှင့် သဘောထား ရရှိရေးအတွက် သက်ဆိုင်ရာဌာန နှင့် ဆက်သွယ်ညှိနှိုင်း ဆောင်ရွက်ပါရန် အကြောင်းကြားပါသည်။

(၃) ရုံးလက်ခံ / မျှောစာတွဲ။

## အဆိုပြုချက်အပေါ် ကနဦး စိစစ်တွေ့ရှိချက်အရ လိုအပ်ချက်များ

ကုမ္ပဏီအမည် ရှောဝတီဧည့်စခန်းသာ ကုမ္ပဏီ လီမိတက်

ဆောင်ရွက်မည့်လုပ်ငန်း ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း

အဆိုပြုလွှာတင်ပြနေ့ ၃ - ၁ -၂၀၁၁

စိစစ်တွေ့ရှိချက်အရ အောက်ပါလိုအပ်ချက်များတွေ့ရှိ ရပါ၍ ပြင်ဆင်ပေးပါရန် အကြောင်းကြားပါသည်။

(၁) အဆိုပြုလွှာ တင်ပြခြင်း နှင့်စပ်လျဉ်း၍ ကတိဝန်ခံချက် လျှောက်လွှာ၊ အခွန်ကင်းလွတ်ခွင့် လျှောက်လွှာ နှင့် အဆိုပြုလွှာတို့တွင် Kandawgyi Palace Hotel ၏ မြေနေရာ ဒေသဖော်ပြချက် ထည့်ပေးရန်။ မြေကိစ္စနှင့် ပတ်သက်၍ ရှင်းလင်းဖော်ပြပေးရန်။

(၂) မနသပုံစံ အပိုဒ်(ရ)တွင် အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ မှာ ခွင့်ပြုမတည်ငွေရင်းပမာဏ သန်း(၅၀၀)ထက် ပိုများနေပါသဖြင့် ပြန်လည်စိစစ်ပေးရန်။

(၃) မနသပုံစံ အပိုဒ်(၈ - က)တွင် အဆောက်အဦ ပမာဏ မှာ ဒေါ်လာဖြင့် ဖော်ပြထား၍ ရှင်းလင်းတင်ပြပေးရန်။ နောက်ဆက်တွဲ အမှတ်များဖြင့် ညွှန်းရန်။

(၄) ရင်းနှီးမြှုပ်နှံမည့်ငွေ ကျပ်သိန်းပေါင်း (၂၇၀၈၀.၀၀)သည် ခွင့်ပြုမတည်ငွေရင်းပမာဏ သိန်း(၅၀၀၀)ထက် ပိုများနေပါသဖြင့် မနသပုံစံ အပိုဒ်(၈)၏ အောက်ခြေတွင် (ခွင့်ပြုမိန့် ရရှိပြီးပါက ရင်းနှီးမြှုပ်နှံမှုကို တိုးမြှင့်ခြင်းဖြင့် သော်လည်းကောင်း၊ ချေးငွေ ရယူခြင်းဖြင့် သော်လည်းကောင်း ရင်းနှီးငွေပမာဏ ကို တိုးမြှင့်မည် ဖြစ်ပါသည်။)ဟု ဖော်ပြပေးရန်။

(၄) မနသပုံစံ အပိုဒ်(၈-ဂ,ဃ,င)တွင် အချိန်နှင့် ကာလ ထည့်သွင်းဖော်ပြပေးရန်။

(၅) မနသပုံစံ အပိုဒ်(၉-ခ)တွင် မြေအမှတ် ထည့်သွင်းဖော်ပြပေးရန်။

(၆) မနသပုံစံ အပိုဒ်(၉-ဇ,ဈ)တွင် အဆောက်အဦ အရေအတွက်နှင့် မြေ အကျယ်အဝန်း ဧက ဖော်ပြပေးရန်။

(၇) Schedule (5 နှင့် 6)တွင် US$ နှင့် Kyat ရရှိသည့် ဝင်ငွေအား ခေါင်းစဉ်ခွဲခြား၍ ဖော်ပြပေးရန်။

(၈) Schedule (10) Cash Flow အား ပူးတွဲပါ ပုံစံဖြင့် ပြင်ဆင်တင်ပြပေးရန်။

(၉) ဟိုတယ် နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ Forward Letter /ခွင့်ပြုချက်/ လုပ်ငန်းလိုင်စင် တင်ပြပေးရန်။

(၁၀) လုပ်ငန်းလုပ်ကိုင်မည့် ဟိုတယ်၏ အဆောက်အဦ ဓါတ်ပုံများတင်ပြပေးရန်။

(၁၁) ကုမ္ပဏီမှတ်ပုံတင်ကဒ် တွင် နောက်ကျောဘက် စာမျက်နှာ မပါရှိပါသဖြင့် ပြည့်စုံသည့် ကုမ္ပဏီမှတ်ပုံတင်ကဒ် တင်ပြပေးရန်။

(၁၁) ဝန်ထမ်းများအတွက် သက်သာချောင်ချိရေး အစီအစဥ် နှင့် လုပ်ငန်းခွင်သာယာရေး ဖော်ပြပေးရန်။

(၁၂) ဟိုတယ်လုပ်ငန်းဖြစ်သဖြင့် Car Par king ထားရှိနိုင်မှု တင်ပြပေးရန်။

(၁၃) Kandawgyi Palace Hotel ဟိုတယ်အား ပုဂ္ဂလိကပိုင်အဖြစ် ပြုလုပ်မည့် ကိစ္စအား ရှင်းလင်းတင်ပြပေးရန်။

(၁၄) လျှပ်စစ်ဓါတ်အား အသုံးပြုမှုနှင့် စပ်လျဥ်း၍ ရှင်းလင်းတင်ပြပေးရန်။

(၁၅) ဟိုတယ်အခန်း အမျိုးအစားများအလိုက် ဝင်ငွေကောက်ခံမှု အခြေအနေ တင်ပြပေးရန်။

(၁၆) ဤလိုအပ်ချက်များကို (   -  ၁ -၂၀၁၀)နေ့တွင် ထုတ်ပေးလိုက်ပါသည်။

(၁၇) အထက်ပါ လိုအပ်ချက်များကို ပြင်ဆင်ဆောင်ရွက်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အမြန်ဆုံး ပြန်လည်တင်ပြပေးပါရန်။

| လာရောက်တွေ့ဆုံသူ | | ထုတ်ပေးသူ | |
|---|---|---|---|
| လက်မှတ် | ---------------------------------- | လက်မှတ် | ---------------------------------- |
| အမည် | ---------------------------------- | အမည် | ---------------------------------- |
| ရာထူး | ---------------------------------- | ရာထူး | ---------------------------------- |

မှတ်ချက်။ ။ လာရောက်တွေ့ဆုံသူသည် ကုမ္ပဏီမှ တာဝန်ရှိသူ (သို့မဟုတ်) ကိုယ်စားလာရောက်ပါက ကုမ္ပဏီ၏ တာဝန်ရှိသူ၏ ကိုယ်စားလှယ် လွှဲစာပါရှိရပါမည်။

M-021
6/1

အထွေထွေ အရပ်ရပ်-၁၆
(ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်) စာကြမ်းရေးရန်)

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဇန်နဝါရီ လ ၆ ရက်။

အကြောင်းအရာ။ ။ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် ( Ayeyarwaddy Resorts & Lodges Co., Ltd)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် ( Ayeyarwaddy Resorts & Lodges Co., Ltd)မှ ရန်ကုန်တိုင်း ဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ကန်ရိပ်သာလမ်းရှိ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို ဆောင်ရွက်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတေဇ (အဘ-ဦးမြင့်ဆွေ) မှ အဆိုပြုတင်ပြလာပါသည်။ အလံ "၁"

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုမှာ စုစုပေါင်း ကျပ်(၂၇၀၈.၀၀)သန်း ဖြစ်ပါသည်။ အဆောက်အဦ တန်ဖိုးအား US $ (၁၃.၀၀)သန်း ဖြင့် ဖော်ပြထားပါသည်။ Kandawgyi Palace Hotel Project အား ပုဂ္ဂလိကပိုင်လုပ်ငန်းအဖြစ် ဆောင်ရွက်မည့် အထောက်အထားများ တင်ပြ ထားခြင်းမရှိပါ။ အလံ "၅"

၃။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပြည်တွင်း လုပ်သား (၁၇၆) ဦး အလုပ်အကိုင် ရရှိပါမည်။ ပြည်ပမှ ပညာရှင် (၃)ဦး အချိန်ပိုင်း ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းမှ ခန့်ထားမည့် Manager (၆)ဦးအား US$ ဖြင့် လစာပေးချေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ အလံ "၈"

၅။ လျှပ်စစ်ဓါတ်အား အသုံးပြုမှု နှင့်စပ်လျဉ်း၍ မည်သို့ဆောင်ရွက်မည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားခြင်း မရှိပါ။

၆။ အဆိုပြုချက် နှင့်စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန မှ စာများ တင်ပြလာခြင်း မရှိသေးပါ။

၇။ ကော်မရှင်၏ (၄၄/၂၀၁၀)အစည်းအဝေးမှ " Baiyoke Kandawgyi Hotel Co., Ltd မှ အစုရှယ်ယာများကို ထူးကုမ္ပဏီများအုပ်စုသို့ လွှဲပြောင်းရောင်းချခြင်းအတွက် လိုအပ်သော စာရွက်စာတမ်း အထောက်အထား အပြည့်အစုံဖြင့် ကော်မရှင်သို့ တင်ပြပြီး ကုန်သွယ်မှုဦးစီးဌာနသို့ ဆက်လက်တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

အထွေထွေ အရပ်ရပ်-၁၆
(ရုံးတွင်းစာအကျဉ်းချုပ်(သို့မဟုတ်) စာကြမ်းရေးရန်)

၈။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ စိစစ်ချက်တွေ့ရှိချက်များကို Check List (အလံ-က) ဖြင့် ပြုစုတင်ပြအပ်ပါသည်။ ကနဦး လိုအပ်ချက် (အလံ-ခ) မှ အချက်များ ပြည့်စုံပါက ကော်မရှင် အစည်းအဝေးတွင် တင်ပြပါမည်။ အလံ "က" အလံ "ခ"

၉။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန မှ စာများ အချိန်မီ တင်ပြလာခြင်း မရှိပါက အဆိုပါဌာနသို့ သဘောထား တောင်းခံနိုင်ပါရန် ပြုစုထားသည့် (စာချော) တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

၁၀။ လမ်းညွှန်မှု ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

(သူရိန်ဇော်၊အတွင်းရေးမှူး)

ဥက္ကဋ္ဌ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၀ ရက်၊

m-234
10/2

အကြောင်းအရာ။ ။ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) မှ မြေတိုင်းရပ်ကွက် အမှတ် - ၁၊ မြေကွက် အမှတ် - ၁ ၏ တစ်စိတ်တစ်ဒေသ နှင့် မြေကွက်အမှတ် ၂- အေ၊ ၂- ဘီ၊ ၂- စီ ၊ ရန်ကုန်တိုင်းဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကန်ရိပ်သာလမ်းရှိ မြေ (၅.၅၀၇)ဧက (၂၃၉၈၈၄.၉၂ စတုရန်းပေ) တွင် Kandawdgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြု တင်ပြချက်အား (၁၃-၁-၂၀၁၁)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂/၂၀၁၁)အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၁၉-၁-၂၀၁၁)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏(၂/၂၀၁၁) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ သဘောတူညီချက်အရ (၂၇-၁-၂၀၁၁)နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့ (၄/၂၀၁၁)အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့်အညီ ဧရာဝတီ ဧည့်စခန်းသာ ကုမ္ပဏီ လီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.) အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာတွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

(သူရိန်ဇော်၊ အတွင်းရေးမှူး)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ရက-၆ (ခ) / မ - ၁၁၂၉ / ၂၀၁၁ ( ၁၁၂၈ )၊

ဧရာဝတီ ညှော်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ။

**အကျဉ်းချုပ်။** ။ မြန်မာ ကုမ္ပဏီဖြစ်သော ဧရာဝတီ ညှော်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd.)မှ မြေတိုင်း ရပ်ကွက်အမှတ် - ၁၊ မြေကွက် အမှတ် - ၁ ၏ တစ်စိတ် တစ်ဒေသနှင့် မြေကွက်အမှတ် ၂ - အေ၊ ၂ - ဘီ၊ ၂ - စီ ရှိ ရန်ကုန်တိုင်း ဒေသကြီး၊ ဗဟန်းမြို့နယ်၊ ကန်ရိပ်သာလမ်းရှိ မြေ (၅.၅၀၇)ဧက (၂၃၉၈၈၄.၉၂ စတုရန်းပေ)တွင် Kandawdgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတေဇ (အဘ- ဦးမြင့်ဆွေ) မှ အဆိုပြု တင်ပြလာပါသည်။

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် နှင့်စပ်လျဉ်း၍ (၁၉- ၁ -၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၁) အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) ဧရာဝတီ ညှော်စခန်းသာ ကုမ္ပဏီလီမိတက် (Ayeyarwaddy Resorts & Lodges Co., Ltd) မှ Kandawgyi Palace Hotel Project အား ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြု ရန်၊

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ကို လည်းကောင်း၊ပုဒ်မ (၁၃)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်မပြုရန်၊

အထက်ပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဟိုတယ် နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာနမှ တင်ပြလာသဖြင့် ဆက်လက်တင်ပြခြင်း ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဟိုတယ် နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာနမှ (၂၄-၁-၂၀၁၁) ရက်စွဲပါ စာဖြင့် လုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဤဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်းနှင့် သဘောတူပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ Ayeyarwaddy Resorts & Lodges Co., Ltd မှ Kandawgyi Palace Hotel လုပ်ငန်းဆောင်ရွက်ခွင့် တောင်းခံထားပြီး မြန်မာ့ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန၊ Baiyoke Kandawgyi Hotel Co., Ltd နှင့် Ayeyarwaddy Resorts & Lodges Co., Ltd တို့ ဟိုတယ်လွှဲပြောင်းခြင်းဆိုင်ရာ သုံးဦးဖလှယ် သဘောတူညီချက် လက်မှတ်ရေးထိုးရန် ဆောင်ရွက်လျှက်ရှိကြောင်း၊ အဆိုပါ သဘောတူညီချက် လက်မှတ်ရေးထိုးပြီး

ပါက Kandawgyi Palace Hotel ၏ ဟိုတယ်လုပ်ငန်း လိုင်စင်အား အသစ်လျှောက်ထားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား ရယူမည့်အပြင် ကိုယ်ပိုင်မီးစက်ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

အဆိုပြု လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ(၁၃.၀၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၄၃၃၈၇.၂၉)သန်း ဖြစ်ပါသည်။ အဆောက်အဦ တန်ဖိုးအား US$(၁၃.၀၀)သန်းဖြင့် ဖော်ပြထားပါသည်။ Kandawgyi Palace Hotel အား ကုမ္ပဏီပိုင်ဖြစ်ကြောင်း အထောက်အထားများ ဆောင်ရွက်နေကြောင်း တင်ပြအပ်ပါသည်။

အဆိုပြုလုပ်ငန်းမှ လက်ရှိ ဝန်ဆောင်မှုပေးနိုင်မည့် အခန်း စုစုပေါင်း(၂၀၈)ခန်း ရှိပြီး နောင်နှစ်များအတွက် အခန်းများ ထပ်မံတိုးချဲ့ ဆောင်ရွက်လျက်ရှိပါသည်။ အခန်း ငှားရမ်းခနှုန်းများမှာ US$ ဖြင့် (၃၅)ရာခိုင်နှုန်းနှင့် ကျပ်ငွေဖြင့် (၅၀)ရာခိုင်နှုန်းဖြင့် တွက်ချက်ထားပါသည်။

လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ဝင်ငွေ အမေရိကန်ဒေါ်လာ (၁၂.၁၃)သန်း အပါအဝင် စုစုပေါင်း(၁၇၆၃၈.၄၀)သန်း ရရှိမည်ဖြစ်ပါသည်။

လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | ပြည်တွင်းသုံးငွေ (ကျပ်သန်း) | နိုင်ငံခြားသုံးငွေ (US$သန်း) | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|---|
| (က) | ကုန်သွယ်လုပ်ငန်းခွန် | ၁၇၅၆.၅၆ | ၁.၂၁ | ၁၇၆၃.၈၄ |
| (ခ) | ဝင်ငွေခွန် | ၃၈၁၇.၀၂ | ၁.၅၇ | ၃၈၂၆.၄၆ |

လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ် နှင့် (၁၀)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ (၁၁.၈၅) ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်း ဆောင်ရွက်ရန်ပြည်တွင်းမှ လုပ်သား (၁၇၆) ဦး အလုပ်အကိုင် ရရှိပါမည်။ ပြည်ပမှ ပညာရှင် (၃)ဦး အချိန်ပိုင်းခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း မှ ခန့်ထားမည့် Manager (၆)ဦးအား US$ ဖြင့် လစာပေးချေမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

အလုပ်သမားနှင့်ဝန်ထမ်းများ သက်သာချောင်ချိရေး အတွက် ဝန်ထမ်း ကြိုပို့ယာဉ် များစီစဉ်ထားရှိခြင်း၊ ဝန်ထမ်းများ သက်သာချောင်ချိရေး စားသောက် ဆိုင်ဖွင့်လှစ်ပေးခြင်း၊ နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းဆိုင်ရာ သင်တန်းများအား ဟိုတယ်၏အစီအစဉ်ဖြင့် တက်ရောက်နိုင်ရန်စီစဉ်ပေးခြင်း၊ အလုပ်ဆင်းရက် မှန်ကန်မှုအတွက် ဆုကြေးငွေ ပေးအပ်ခြင်းနှင့် အချိန်ပို လုပ်အားခပေးခြင်းတို့ကို ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ မီးဘေးကြိုတင် ကာကွယ်ရေး

